ဟာဇရသ် မောင်လာနာ အဗ္ဗလ်ဟာစံ အလီ နဒ်ဝီ သခင်
ဟောကြားအပ်သော

# ရမ်ဇန်လမြတ်ရဲ့ပေးစာ

ပြန်ဆိုသူ
မောင်လာနာ စိုင်ယစ်ဒ် ဟာစံရှား
(ဟူစိုင်နီ၊ အလ်ကောင်ဆရီ)

# မောင်လာနာ မုဖ်သီ မုဟမ္မဒ် အာခ္စင်းမ် (နဒ်ဝီ၊ အဗ္ဗလ်ဟာစနီ၊ မဒ္ဒာဟော့ရီ) ၏ ရင်တွင်းဖြစ် ပန်းခင်းသစ်

ယခုစာရှုသူရှေ့မောက်ရှိကျမ်းငယ်သည် အစ္စလာမ့်ဥယျာဉ်မှုး အေမာမ်စိုင်ယစ်ဒ်အဗ္ဗလ်ဟစံအလီ(ဟာစနီ၊နဒ်ဝီ)မျိုးစေ့ချခဲ့သည့် သင်းပျံ့သောရနံ့၊ လှပသည့် အဆင်းများနှင့်လှချင်တိုင်းလှနေသော ရိုဇာပန်းခင်း တစ်ခုဖြစ်သည်။ ထိုသင်းပျံ့သောပန်းရနံ့များကို ဆရာကြီး၏ ဆွေမျိုးထဲမှ မျိုးဆက်သစ်ကလောင်ရှင်တစ်ပါးဖြစ်သော မော်လာနာစိုင်ယစ်ဒ် မုဟမ္မဒ် ဟစံရှား(ဟုစိုင်နီ)ကအမိမြေမှ စာဖတ်ပရိ သတ်ဆီသို့ ဆောင်ယူသယ်လာခဲ့ပါသည်။

ရှေးယခင်ကတည်းက ပညာရှင်အသီးသီးသည် ရိုဇာနှင့်စပ်လျဉ်းသည့်ပညတ်ချက်များ၊ အကျိုးကျေးဇူးများကို ရှုထောင့်အစုံမှရေးသားခဲ့ကြပါသည်။ သို့သော် ဆရာသခင်ကြီးတင်ပြသည့် ရိုဇာ၏အနှစ်သာရ၊ အတွေးအမြင် ဒဿနနှင့်ခံယူချက်များ၊ အယူအဆများမှာ ရှာလျှင်ရှားမည့် ရတနာများပင်ဖြစ်သည်။ ဆရာကြီး၏ အတွေးအခေါ်များသည် ရွှေချထိုက်ပါသည်။ ထိုအနှစ်သာရများကို မူဟန်မပျက်၊ ခံစားချက်များကိုပါ ပူးတွဲ ပြန်ဆိုပေးခဲ့သည့် မော်လာနာဟစံရှား၏ ကလောင်သည်လည်း ရွှေကွပ်ထိုက်ပါသည်။

ဤကျမ်းသည် မော်လာနာအဗ္ဗလ်ဟစံအလီ (နဒ်ဝီ)၏ ရိုဇာနှင့် စပ်လျဉ်းသည့် ဟောကြားတစ်ခုကို ဘာသာပြန်ဆိုထားခြင်းဖြစ်သည်။ အထက်ပါတရားတော်တွင် ဆရာကြီးက ....

– ရိုဇာ၏အမိန့်တော် ပြဋ္ဌာန်းသည့်အာယသ်၏ အလှတရားများ

– သတ်က်ဝါ၏ ဓမ္မစစ်သဘောတရားများ

– ရမ်ဇာန်လမြတ်၏ အရေးပါသော ပေးစာများ

– ဘဝတာတစ်ခုလုံးအတွက် တစ်လတာကုထုံးဖြစ်သော ရမ်ဇာန်ကို တန်ဖိုးထားနိုင်ရန် ဆော်သြချက်များ။

– ဖန်ဆင်းရှင်ဝတ္တရာများနှင့် ဖန်ဆင်းခံဝတ္တရာများကို ကျေပွန်စွာ ထမ်းဆောင်ပြီး ပျက်ကွက်ခဲ့သမျှကို သောဝ်ဗဟ် အိစ်သိဂ်ဖားရ်ပြုခြင်း၊ တောင်းပန်ခြင်းတို့ဖြင့် ဖြည့်စွက်ရမည့်အကြောင်းများ။ ထပ်ဆင့်၍ ....

– ဒီးန်ဆိုသည်မှာ ဦးနှောက်ထက် နှလုံးသားဦးနေရမည်ဖြစ်ပြီး၊ မိမိပြု ကျင့်မည့် သာသနာ့ကိစ္စအဝဝသည် ကိုယ်တော်မြတ် ﷺ ၏ ရှရီအသ် အတိုင်းဖြစ်မှသာ ဘောင်ဝင်မည်ဖြစ်ကြောင်း

– ရင်သွေးငယ်တို့ အဆုံးကောင်းဖို့ အကောင်းဆုံးပညာရေးများ သင်ကြား ပေးရမည့်အကြောင်း၊ သာသနာ့ပညာ၊ခေတ်ပညာ နှစ်ရပ်လုံးတွင် နှံ့စပ် ကျွမ်းကျင်ပြီး ပညာရေး စံမီနေစေရန် အထူးစီမံပေးရမည့် အကြောင်း၊ မက်သဗ်ပညာရေး ကွန်ယက်များ ကို ဖြန့်ကျက်ရမည့်အကြောင်း။

– မွတ်စ်လင်မ်တို့သည် ပတ်ဝန်းကျင်ကို မိမိတို့၏ စာရိတ္တအလှဖြင့် ဆင မြန်းပေးပြီး၊ အခြားသူများ ပန်းခင်းလမ်းပေါ်လျှောက်လှမ်းနိုင်ရန် ကိုယ် က လမ်းခင်းပန်းအဖြစ် စတေးရမည်ဖြစ်ကြောင်း၊ မွတ်စ်လင်မ်သည် ပတ်ဝန်းကျင်အတွက် ဆူးညှောင့်ခလုပ်မဟုတ်ဘဲ ပတ်ဝန်းကျင်ရှိ ဆူးညှောင့်ခလုပ်၊ အမှိုက်သရိုက်များကို ဖယ်ရှားသူသာဖြစ်ကြောင်း စသည့် အတွေးများဖြင့် ကျွန်ုပ်တို့ရင်ခွင်တံခါးကို တိတ်တဆိတ် ခေါက် လိမ့်မည်ဖြစ်ပါသည်။ ဆရာကြီးတို့နှစ်ပါးကတော့ ကျရာနေရာမှာ ရရာ

တာဝန်များကို ကျေပွန်ကြပါတယ်။ ကျွန်တော်တို့ရော လိုက်နာကျင့်သုံးရေး တာဝန်ကျေနိုင်ကြပါမလား။ မေးခွန်းထုတ်ရင်း ......

မုပ္ပာမွဒ် အာစွင်မ်း (နဒ်ဝီ)
ဟစ်ဂျ်ရီ(၁၄၄၁)၊ရှအ်ဗာန်လ(၂)ရက်
ခရစ်နှစ် (၂၀၂၀)ခု၊ မတ်လ (၂၇)ရက်

بسم الله الرحمن الرحيم

# လူ့ပင်ကိုယ်ဗီဇကို ထောက်ထားသက်ညှာပြီး ဖရဇ်အဖြစ်သတ်မှတ်ထားတဲ့ ရိုဇာ

ကျတော့်ချစ်ညီနောင် ဓမ္မပရိသတ်အပေါင်းနဲ့ ချစ်ခင်လေးစား တန်ဖိုး ထားအပ်တဲ့ လူ ကြီးမင်းအပေါင်းတို့ ခင်ဗျား!

ကျတော် လူကြီးမင်းတို့ ရှေ့မှောက်မှာ ကျမ်းမြတ်ကုရ်အာန်ရဲ့ အာယတ်သ်တော် တစ်ပုဒ်ကို ဖတ်ရွတ်ခဲ့တယ်။အဲ့ဒီ အာယတ်သ်တော်ဟာ ရမ်ဇန်လမြတ်ရဲ့ ရိုဇာ ဖရဇ်ဖြစ်ကြောင်း ကြေညာထားတဲ့ အာယတ်သ် တော် ဖြစ်တယ်။ အဲ့ဒီအာယတ်သ်တော်ရဲ့ အကြောင်းခံနဲ့ ရမ်ဇန်လမြတ်ရဲ့ ရိုဇာ ဥပုသ်ဟာ မလုပ်မနေရ ဖရဇ်တာဝန်တစ်ခု ဖြစ်ကြောင်း မုစ်လင်မ် အားလုံးသိရှိသွားကြတယ်။ ဒီအာယတ်သ်တော်က ကေယာမသ်တိုင် ရိုဇာ ဖရဇ် ဖြစ်ကြောင်း အထောက်အထားအဖြစ် တည်ရှိနေပါမယ်။ အာယတ်သ်တော်ထဲမှာ တွေးစရာ ၊ မှတ်စရာတွေ အများကြီး ပါဝင်နေ တယ်။ အရင်ဆုံး ကျတော် အာယတ်သ်တော်ကို ဘာသာပြန်ပြမယ်။ နောက်မှ အထူးမှတ်သားလိုက်နာရမယ့် သင်ခန်းစာတွေကို မီးမောင်းထိုး ပြမယ်။ အာယတ်သ်တော်မှာ အလ္လာဟ်အရှင်မြတ် မိန့်တော်မူထားတာက

﴿ يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُواْ كُتِبَ عَلَيۡكُمُ ٱلصِّيَامُ كَمَا كُتِبَ عَلَى ٱلَّذِينَ مِن قَبۡلِكُمۡ لَعَلَّكُمۡ تَتَّقُونَ ١٨٣ ﴾ (البقرة: ١٨).

အဓိပ္ပါယ်။ ။ အိုး- အီမာန် သက်ဝင်ယုံကြည်ကြသူအပေါင်းတို့၊ အလ္လာဟ်အရှင်မြတ်သည် အသင်တို့ထက်အလျင်ရှိခဲ့ကြသောသူတို့ အ ပေါ် ရိုဇာဥပုသ်စောင့်ထိန်းရန် အမိန့်တော် ထုတ်ပြန်တော်မူသကဲ့သို့ပင်

အသင်တို့အပေါ်၌လည်း ရိဇာဥပုသ်စောင့်ထိန်းရန် အမိန့်တော် ထုတ်ပြန်တော်မူခဲ့သည်။ သို့မှသာ အသင်တို့သည် ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်သူများ ဖြစ်တန်ရာ၏။(စူရဟ် ဗကရဟ်၊အာယတ်သ် ၁၈၃)

အလ္လာဟ်အရှင်မြတ်ရဲ့ဒီအမိန့်တော်ဟာ စာပေဂုဏ်ရသမြောက်သလို အတော်လည်း ပညာသားပါလှတယ်။ အကြောင်းက ဒီအာယတ်သ်တော်မှာ အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ပညတ်ထားတဲ့ အမိန့်တော်ဟာ လူသားတွေအတွက် အင်မတန် ခက်ခဲကြမ်းတမ်းတယ်။ဓွဲ၊လုံ့လ၊ ဝိရိယ အပြည့် လိုအပ်တဲ့အမိန့်မျိုးဖြစ်တယ်။ အဲလိုအမိန့်မျိုးအတွက် အလ္လာဟ်အရှင်မြတ်က အီမာန်ကို အုတ်မြစ်အဖြစ်ပြုလုပ်ထားတယ်။ ဒါကြောင့် အလ္လာဟ်အရှင်မြတ်က အာယတ်သ်တော်မှာ အရင်ဆုံး အီမာန်နဲ့အစပြုထားတယ်။

يَا أَيُّهَا الَّذِينَ آمَنُوْا အလိုသဘောက အိုး အီမာန်သက်ဝင်ယုံကြည်ပြီးကြသူတို့၊ အလ္လာဟ်အရှင်မြတ်ရဲ့ အမိန့်တော်အားလုံးကို လက်ခံလိုက်နာပါ့မယ်လို့ ကတိကဝတ်ပြုထားကြသူတို့၊ အစ္စလာမ့်အဝန်းအဝိုင်းထဲကို ခြေစုံပစ်ဝင်ပြီးကြသူတို့၊ ကိုယ့်ကိုယ်ကို အလ္လာဟ်အရှင်မြတ်အား အပြီးအပိုင်အပ်နှံပြီးကြသူတို့ ။အလ္လာဟ်အရှင်မြတ်ဟာ ကျတော်မျိုးတို့ကို စိုးပိုင်တော်မူတဲ့အရှင်၊ ကျတော်မျိုးတို့ကို စီရင်ဆုံးဖြတ်တော်မူမယ့်အရှင်၊ အလ္လာဟ်အရှင်မြတ် ဘယ်လိုအမိန့်ပဲပေးပေး ကျတော်မျိုးတို့ မြေဝယ်မကျ လိုက်နာပါ့မယ်လို့ အလ္လာဟ်အရှင်မြတ်ကို အပြီးအပိုင်အပ်နှံပြီးသားပါ။ အလ္လာဟ်အရှင်မြတ်ပေးမယ့် အမိန့်ဟာလွယ်လား၊ ခက်လား၊ အရသာရှိလား၊ မရှိဘူးလား၊ လောကီအကျိုးရှိလား၊ မရှိဘူးလား ဆိုတာနဲ့

ပတ်သက်လို့ ကျတော်တို့ဘက်က ဘာစောဒကမှ မရှိပါဘူး။ အဲ့လိုပဲ အမိန့်တော်ဟာ တစ်ခုလား၊ ဆယ်ခုလား၊ တစ်ကြိမ်တည်း ထမ်းဆောင်ရမှာလား၊ ဆယ်ကြိမ် အကြိမ်နှစ်ဆယ် ထမ်းဆောင်ရမှာလား ဆိုတာနဲ့ပတ်သက်လို့လည်း ကျတော်တို့ဘက်က ဘာစောဒကမှမရှိပါဘူး။ ကျတော်တို့ဟာ အလ္လာဟ်အရှင်မြတ်ရဲ့ကျေးကျွန်တွေဖြစ်ကြောင်း ဖွင့်ဟလက်ခံပြီးကတည်းက "ကျတော်တို့က အလ္လာဟ်အရှင်မြတ်ရဲ့ကျေးကျွန်တွေဖြစ်တယ်၊ အလ္လာဟ်အရှင်မြတ် ဘာကိုပဲအမိန့်ပေးပေး ကျတော်မျိုးတို့ ဦးလည်မသုန် နာယူကျင့်သုံးပါ့မယ်" ဆိုပြီး ကြေညာပြီးသားပါ။

"အိုး– အီမာန်သက်ဝင်ယုံကြည်သူ အပေါင်းတို့" လို့ ချစ်စနိုးနဲ့ ခေါ်ဝေါ်ပြီး အစပြုထားတာဟာလဲ အမြော်အမြင်ကြီးမားတဲ့ တစ်ဆူတည်းသော အရှင်ပဲ အစပြုနိုင်တယ်။ တကယ်တမ်းဆို လက်ရှိ ကမ္ဘာပေါ်မှာ အစိုးရတွေ ဥပဒေသစ် တစ်ခုခု ပြဋ္ဌာန်းသလို၊ ပုဒ်မ အသစ်တစ်ခုခု ထုတ်ပြန်ကြေညာသလို "ဒါဒါ လိုက်နာကျင့်သုံးရင် ပြစ်ဒဏ်ကနေ လွတ်မြောက်မယ်၊ မလိုက်နာ မကျင့်သုံးရင် ပြစ်ဒဏ်ထိုက်မယ်" လို့ အလ္လာဟ်အရှင်မြတ် မိန့်ချင်ရင်လဲ မိန့်လို့ရတာပဲ။ အလ္လာဟ်အရှင်မြတ်ဟာ ချွင်းချက်မဲ့ စီရင်ဆုံးဖြတ်နိုင်တော်မူတဲ့ အရှင်ဖြစ်တယ်။ လူသားမျိုးနွယ်စုတစ်ရပ်လုံးရဲ့အသက်၊အိုးအိမ်၊စည်းစိမ်၊ဂုဏ်သိက္ခာ အားလုံး အရှင် မြတ်ရဲ့ လက်တော်ထဲမှာပဲ ရှိတယ်။ အလ္လာဟ်အရှင်မြတ် ဘယ်ပုံစံနဲ့ပဲ အမိန့်ရှိရှိ မိန့်ပိုင်ခွင့်ရှိတယ်။ ဒါပေမယ့်လဲ အရှင်မြတ်က ဘယ်လို မြတ်မြတ်နိုးနိုးနဲ့ တင်စားပြီး အမိန့်ရှိနေလဲ ရှုစားကြည့်ပါ။ يَا أَيُّهَا الَّذِينَ آمَنُوا "အိုး အီမာန် သက်ဝင်ယုံကြည်သူ အပေါင်းတို့" တဲ့။

ဒီအာယသ်တော်မှာ အလ္လာဟ်အရှင်မြတ်က ကျတော်တို့မုစ်လင်မ် အားလုံးရဲ့ အီမာန်အင်အားကို အမွှမ်းတင်ပြီး ခေါ်ဝေါ်ထားတယ်။အဲ့ဒီ အီမာန်အင်အားကို နှိုးဆွပေးနေတယ်။ အဲ့ဒီ အင်အားကို အခြေခံအုတ်မြစ် အဖြစ် ပြုလုပ်ပြီးမှ အမိန့်တော် ထုတ်ပြန်ကြေညာတယ်။

﴿كُتِبَ عَلَيْكُمُ ٱلصِّيَامُ كَمَا كُتِبَ عَلَى ٱلَّذِينَ مِن قَبْلِكُمْ ﴿١٨٣﴾﴾ (البقرة: ١٨٣).

အဓိပ္ပါယ် ။ ။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့ထက်အလျင်ရှိခဲ့ကြသော သူတို့အပေါ် ရိုဇာဥပုသ်စောင့်ထိန်းရန် အမိန့်တော် ထုတ်ပြန်တော်မူသကဲ့သို့ပင် အသင်တို့အပေါ်၌လည်း ရိုဇာဥပုသ်စောင့်ထိန်းရန် အမိန့်တော် ထုတ်ပြန်တော်မူခဲ့သည်။ (စူရဟ် ဗကရဟ်၊အာယတ်သ် ၁၈၃)

အလ္လာဟ်အရှင်မြတ်က လူ့ပင်ကိုယ်ဗီဇနဲ့ စိတ်နေသဘောထားတွေကို ဖန်ဆင်းတော်မူတဲ့ အရှင်ဖြစ်တယ်။ ဒါ့ကြောင့် မိမိရဲ့အမြော်အမြင်အကြင်နာဂရုဏာနဲ့ လူ့ပင်ကိုယ်ဗီဇ၊ စိတ်နေသဘောထားတွေကို သက်ညှာထောက်ထားတယ်။ လူ့ပင်ကိုယ်ဗီဇက ကိုယ်နဲ့တရင်းတနှီးမရှိတဲ့ အရာတွေ၊ တခါမှ မကြုံဖူးသေးတဲ့အရာတွေနဲ့ ရုတ်တရက် ဘွားကနဲ ကြုံလိုက်ရရင် တုန်လှုပ်သွားတက်တယ်။ ချောက်ချားသွားတတ်တယ်။ “ ဟာ ဒါကြီးလုပ်ရမှာလား” ဆိုတဲ့ စိတ်ခံစားချက်တွေဖြစ်တတ်တဲ့ သဘောရှိတယ်။ လူသားကို ဖန်ဆင်းတော်မူသော အရှင်မြတ်က လူသားရဲ့ အဲ့ဒီစိတ်နေသဘောထားကို သိတော်မူတယ်။ ဒါ့ကြောင့် အမိန့်တစ်ခုခု မထုတ်ပြန်ခင် လူသား အဲ့ဒီအမိန့်ကို အသာတကြည် နာယူလက်ခံနိုင်အောင် အရှင်

ဆုံး စိတ်ဓါတ်ပိုင်းဆိုင်ရာလေ့ကျင့်ခန်းနိဒါန်းပျိုးတယ်။ လူသားရဲ့ပင်ကိုယ်ဗီဇက အရာတစ်ခုဟာ နဂိုကတည်းက လူတွေ ပြုမူလာတဲ့အရာ ၊ ကျင့်သုံးလာတဲ့အရာ ဖြစ်တယ်ဆိုမှ ကြည်ကြည်ဖြူဖြူနဲ့ နာယူလက်ခံကျင့်သုံးလေ့ရှိတာ။ ဆိုတော့ အလ္လာဟ်အရှင်မြတ် အမိန့်ရှိတယ်.....

﴿كُتِبَ عَلَيۡكُمُ ٱلصِّيَامُ كَمَا كُتِبَ عَلَى ٱلَّذِينَ مِن قَبۡلِكُمۡ ١٨٣﴾ (البقرة: ١٨٣).

ဆိုလိုတာက အခု အသင်တို့ကို တာဝန်ပေးလိုက်တဲ့ ရိုဇာဥပုသ် ဟာ အသစ်အဆန်းမဟုတ်ဘူး ။အရင့်အရင်က လူတွေလည်း ဒီတာဝန်ကို ထမ်းရွက်ခဲ့ကြတယ်။အခုမှ အသင်တို့ကို စတင်ပေးအပ်တဲ့ တာဝန်အသစ်မဟုတ်ဘူး။

တကယ်လဲ ဘာသာတရားတိုင်း ၊ လမ်းစဉ်တိုင်းမှာ ပုံစံတစ်မျိုးမျိုးနဲ့ ရိုဇာစောင့်ထိန်းရတာတွေရှိတယ်။ အဲ့ဒိရဲ့အထောက်အထားတွေကိုလည်း ဘာသာရေးကျမ်းတွေနဲ့ ယဉ်ကျေးမှုသမိုင်းတွေထဲမှာ အတိအလင်းတွေ့ရတယ်။ အဲ့ဒိရိုဇာဥပုသ်တွေရဲ့ ပုံစံ ၊ အရေအတွက် ၊ အချိန် နဲ့ စည်းမျဥ်းပိုင်းတွေကတော့ ပညာရပ်ဆိုင်ရာ သုတေသနတစ်ခုဖြစ်တော့ ဒီနေရာမှာ တင်ပြဖို့ မလွယ်လှဘူး။

## "သတ်က်ဝါ" ဆိုတာ

အလ္လာဟ်အရှင်မြတ်က ဆက်လက်ပြီး အာယသ်တော်ရဲ့နောက်ဆုံးမှာ အမိန့်ရှိထားတယ် لَعَلَّكُمْ تَتَّقُونَ သို့မှသာ အသင်တို့ သတ်က်ဝါတရားလက်ကိုင်ထားတန်ရာ၏" တဲ့။





ဘာသာစကားတစ်ခုရဲ့ စကားလုံးတစ်လုံးကို အခြားဘာသာစကားတစ်ခုနဲ့ ဘာသာပြန်ဆိုတဲ့အခါမှာ များသောအားဖြင့် မူရင်းအဓိပ္ပါယ် ပျောက်ပျောက်ကုန်တယ်။ ခေါင်းထဲမှာလည်း အဲ့ဒီစကားလုံးကို ဘာသာပြန်ဖို့ အမျိုးမျိုးတွေးတော စဉ်းစားစရာတွေ ဖြစ်လာတယ်။ အဲ့လိုဖြစ်လေ့ရှိတဲ့ စကားလုံးတွေထဲမှာ "သတ်က်ဝါ"ဆိုတဲ့စကားလုံးနဲ့ "မွတ်သက္ကီ" (သတ်က်ဝါတရားလက်ကိုင်ထားသူ)ဆိုတဲ့ စကားလုံးတွေလည်း ပါတယ်။ "မွတ်သက္ကီ"ဆိုတာ အေဗာဒသ်တအားလုပ်တဲ့ပုဂ္ဂိုလ်၊ ညမှာ နည်းနည်းအိပ်တဲ့ပုဂ္ဂိုလ် (သို့) လုံးဝမအိပ်တဲ့ ပုဂ္ဂိုလ်၊ မစားတဲ့ ပုဂ္ဂိုလ်တွေလို့ ကျတော်တို့ ယူဆကြတယ်။ အဲလိုပဲ နမားဇ် တအားဖတ်တဲ့ ပုဂ္ဂိုလ် ၊ နမားဇ်ကို အာရုံအပြည့်နဲ့ ဖတ်တဲ့ပုဂ္ဂိုလ်တွေနဲ့ သံသယ နည်းနည်းလေးဝင်ရင် ရှောင်တဲ့ပုဂ္ဂိုလ်တွေဆိုရင် ပိုလို့တောင် "မွတ်သက္ကီ"သတ်က်ဝါရှင်ကြီးလို့ မှတ်ယူကြသေးတယ်။ ဒါပေမယ့် အရဗီဘာသာစကားမှာ "သတ်က်ဝါ"ဆိုတာ နေ့မနား ညမအား အေဗာဒသ်လုပ်ခြင်း ၊ နမားဇ်တွေ အများအပြား ဖတ်ခြင်းနဲ့ ရှိဇာတွေ ထရစက်ထားခြင်းပဲလို့ အဓိပ္ပါယ် မရပါဘူး။

"သတ်က်ဝါ" ဆိုတာ ချင့်ချိန်စဉ်းစား ဆောင်ရွက်တတ်တဲ့အကျင့်နဲ့ စည်းစောင့်ရတဲ့ ကျင့်ဝတ်တွေပဲ။ ဆိုလိုတာက ငါဒီအလုပ်ကို လုပ်ရင် အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မူမလား၊ ငြိုငြင်တော်မူမလား၊ ပြုပိုင်ပါ့မလား မပြုပိုင်ဘူးလား ၊ သာသနာနဲ့အညီဖြစ်ရဲ့လား ဆန့်ကျင် နေသလား ဆိုတာတွေကို ချင့်ချိန် စဉ်းစားပြီး ကျင့်မူတာကို "သတ်က်ဝါ" လို့ ခေါ်ပါတယ်။

ဥပမာအနေနဲ့ ပြောရရင် ကလေးတစ်ယောက်ဟာ ကောင်းကောင်းမွန်မွန် ပညာသင်ခွင့်ရမယ် ၊ စနစ်တကျ ပြုစုပျိုးထောင်ပေးတဲ့ ပတ်ဝန်းကျင်တစ်ခုမှာ ကြီးပြင်းလာတဲ့ ကလေးဖြစ်မယ်ဆိုရင် လူကြီးမိဘတွေကို သူ ရိုရိုသေသေ လေးလေးစားစားနဲ့ ဆက်ဆံတတ်လာတယ်။ လူကြီးသူမတွေကို ရိုသေရကောင်းမှန်း သူ သိလာတယ်။ လူကြီးတွေကို ရိုသေတယ်ဆိုတာ သူတို့ကို အရိုအသေတန်စေတဲ့ အပြောအဆို အနေအထိုင် ၊ သူတို့ကို ပြုံပြင်စေတဲ့ အပြုအမူတွေ အားလုံးကနေ ရှောင်ကြဉ်ခြင်းပဲ။ အဲ့လိုကျင့်ဝတ်စောင့်စည်းတဲ့ ကလေးတွေကို “ အော် ဒီကလေးလေးကတော့ အတော် ရိုသေတဲ့ကလေးလေးပဲ ၊ တော်တော် လိမ္မာရေးခြား ရှိတဲ့ကလေးလေးပဲ” လို့တောင် ပြောစမှတ် ပြုကြတယ်။ အဲ့လိုပဲ ကျောင်းသားအတွက်လည်း တပည့်ကျင့်ဝတ် ဆိုတာ ရှိတယ်။ ဝန်းထမ်းအတွက်လည်း ဝန်းထမ်းကျင့်ဝတ် ဆိုတာ ရှိပါတယ်။

ဆိုလိုတာက သတ်က်ဝါ ဆိုတာ ကိုယ့်ကျင့်ဝတ်ကိုယ် စောင့်စည်းခြင်းပါပဲ။ ဘယ်အလုပ်ကိုပဲ လုပ်လုပ် မလုပ်ခင် ကိုယ်လုပ်တဲ့ အလုပ်ဟာ တစ်ဦးတစ်ယောက်ကို ကြည်နူးအောင်လုပ်နေတာလား ၊ ပြုံပြင်အောင် လုပ်နေတာလားဆိုတာ အရင် စဉ်းစားရမယ် ။ သာသနာ့ရှုထောင့်ကနေ ပြောရမယ်ဆိုရင် ကိုယ်လုပ်မယ့်အလုပ်ဟာ အစ္စလာမ့်တရားတော်နဲ့ ကိုက်ညီမှုရှိလား မရှိဘူးလား ဆိုပြီး ချင့်ချိန်စဉ်းစား ဆောင်ရွက်တတ်တဲ့ အကျင့် ၊ ကျင့်ဝတ်စောင့်စည်းတတ်တဲ့ အကျင့်ဖြစ်သွားခြင်းဟာ “သတ်က်ဝါ” ပါပဲ။

အထောက်အထားအနေနဲ့သာဝကကြီးအိုမရ်ﷺသခင်အကြောင်းကို ရှုစားကြည့်ကြပါ။ သာဝကကြီး အိုမရ်ﷺသခင်ဆိုတာ သာမန်ပုဂ္ဂိုလ်တစ်ဦးမဟုတ်ပါဘူး။ သာဝကကြီး အဗူဘကရ်ﷺသခင်ပြီးရင် စွဟာဗဟ် သာဝကတွေထဲမှာ အဆင့်အတန်းအမြင့်ဆုံး ပုဂ္ဂိုလ်ကြီး တစ်ဦးဖြစ်တယ်။ ကျမ်းတော်မြတ် ကုရ်အာန်က သခင်ကြီး ရှေ့မှောက်မှာ ကျရောက်ခဲ့တာ။ မိခင်ဘာသာစကားဖြစ်တဲ့ အရဗီဘာသာစကားကို အင်မတန် လေ့ကျွမ်းနဲ့ စပ်တဲ့ ပုဂ္ဂိုလ်ကြီး ဖြစ်တယ်။အရဗီဘာသာစကားကို ရိုးရိုးသမန်ကာရှန် ကာလေ့ကျွမ်းရုံလောက်မဟုတ်ဖူး။အဲ့ဒီခေတ်အခါသမယက ဘာသာဗေဒ ပညာရှင်တွေ အတည်ပြုလက်ခံထားတဲ့ စာပေကို လေ့ကျွမ်းနဲ့စပ်တဲ့ ပုဂ္ဂိုလ်ဖြစ်တယ်။ အဲ့ဒီအရဗီဘာသာစကားကို ပြောဆိုတဲ့ သာဝကကြီးတွေကလည်း မသိတဲ့အရာတစ်ခုကို မေးမြန်းဖို့ တစ်ချက်မှ ရွံ့တဲ့ ပုဂ္ဂိုလ်တွေ မဟုတ်ဖူး။ အမြဲ ကိုယ့်အသိပညာ ဗဟုသုတကို ဘယ်လိုတိုးတက်မြင့်မားအောင်လုပ်ရမလဲ စဉ်းစားတွေးတော နေကြတဲ့သူတွေ ချည်းပဲ။

တနေ့ သာဝကကြီးအိုမရ်ﷺသခင်က သာဝကကြီး အဗ်ဒွလ္လာဟ် ဗင်န်မစ်အူးဒ်ﷺသခင်ရဲ့ နာမည်ယူပြီး “ သတ်က်ဝါ ဆိုတာ ဘယ်အရာကို ခေါ်တာလဲ”လို့ မေးမြန်းခဲ့တယ်။ အဲ့ဒီအခါ သာဝကကြီး အဗ်ဒွလ္လာဟ်ဗင်န် မစ်အူးဒ်ﷺသခင်က“အိုး အမီရွလ်မုအ်မီနီးန် သခင်ကြီးဟာ ဘေးနှစ်ဖက် နှစ်ချက် ဆူးငြောင့်ခလုတ်တွေနဲ့ ပြည့်နေတဲ့ လမ်းကျဉ်းလေးတစ်ခုမှာ လမ်းလျှောက်ဖူးတယ် မဟုတ်လား”လို့ မေးမြန်းလိုက်တယ်။ ဒါနဲ့ သာဝကကြီး အိုမရ်သခင်က “ ဟုတ်တယ် အဲလို ကြုံဖူးတယ်” လို့ဖြေကြား

လိုက်တယ်။ ဒါဆို အဲလို လမ်းမျိုးမှာ သခင်ကြီး ဘယ်လို လမ်းလျှောက်လဲ လို့ သာဝကကြီးအဗ်ဒွလ္လာဟ်ဗင်န်မစ်အူးဒ်ﷺကထပ်မေးတယ်။ သာဝက ကြီးအိုမရ်ﷺသခင်က "ကိုယ့်အဝတ်အစားတွေကို ဆူးညှောင့်ခလုတ်တွေ နဲ့ မညှိမိအောင် စုစည်းပြီး ဂရုတစိုက်နဲ့ လျှောက်ရတာပေါ့"လို့ ပြန်အဖြေ ပေးတယ်။ " ဟုတ်တယ် သတ်က်ဝါ ဆိုတာ အဲ့ဒါကို ခေါ်တာပဲ။ အလ္လာဟ် အရှင်မြတ် မနှစ်သက်တဲ့အရာ ၊ မပိုင်တဲ့အရာတွေကို မလုပ်မိအောင် ကြိုး စားပြီး ဘဝမွေးမြူတာပဲ"လို့ သာဝကကြီး အဗ်ဒွလ္လာဟ် ဗင်န် မစ်အူးဒ်ﷺ သခင်ကလည်း ပြန်ဖြေလိုက်တယ်။

တော်တော်များများက အရဗီဘာသာစကားရဲ့ အတိမ်အနက်ကို မသိတော့ ဒီအာယသ်တော်ကို သေသေချာချာ မတွေးတောတတ်ကြဘူး။ ရမ်ဇန်လမြတ်မှာ အလ္လာဟ်အရှင်မြတ် ဖရဇ်လုပ်ထားတဲ့ ရိုဇာ(ရက်ပေါင်း ၂၉၊ ၃၀) စောင့်ထိန်းလိုက်ပြီး အီးဒ်လမြင်တာနဲ့ သူတို့မွတ်သက္ကီ တွေဖြစ် သွားကြပြီလို့ ယူဆကြတယ်။ သူတို့တွေ တနေကုန် ရိုဇာတွေ စောင့်ထိန်း ကြတယ်။ ဘာမှမစားဘဲ နေကြတယ်။ ကျမ်းတော်မြတ် ကုရ်အာန်ကို စ လယ်ဆုံး အကြိမ်ကြိမ်ဖတ်ကြတယ်။ ညမှာ အေဗာဒသ်တွေလုပ်ကြတယ်။ သရာဝီတွေ ဖတ်ကြတယ်။ မှန်ပါတယ် အဲ့ဒါတွေဟာ မွတ်သက္ကီတွေ လုပ် တဲ့အလုပ်တွေ။ ဒါပေမဲ့ အဲ့ဒီအမလ်တွေ လုပ်ခြင်းဟာ အောင်လတ်မှတ် ရသွားပြီ ဆိုတဲ့ သဘောမဟုတ်ဘူး။ "အားလပ်ရက် ရသွားပြီ နောက်ဘာမှ ဆက်လုပ်စရာ မလိုတော့ဘူး၊ရမ်ဇန်တစ်လ အလ္လာဟ်အရှင်မြတ်အမိန့် နာခံလိုက်ရင် လုံလောက်ပြီ" လို့ ဆိုလိုတာ မဟုတ်ဘူး။

အမှန်တကယ်က ရမ်ဇန်တစ်လလုံး တစ်ရက် ၊ နှစ်ရက် မဟုတ်ဘူး ရက်ပေါင်း ၂၉၊ ၃၀ တိုင်တိုင် အလ္လာဟ်အရှင်မြတ်အမိန့်ကို ဦးထိပ်ပန်ဆင်ပြီး ၊ အရှင်မြတ်ရဲ့နှစ်သက်မှုကို ရှေ့ရှုပြီး ကျွတော်တို့ ဟလာလ်သန့်ပြန့်တဲ့အစားအစာတွေကိုစွန့်လွှတ်ခဲ့တယ်။ ယုတ်ဆွအဆုံး အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတဲ့ ရေဆိုတဲ့ စည်းစိမ်ကြီးကိုတောင် စွန့်လွှတ်လိုက်တယ်။ အလိုပဲ ကျွတော်တို့ဟာ လူသားတွေဖြစ်တော့ အနှောင်အဖွဲ့တွေလည်း ရှိမယ်။ အလုပ်အကိုင်တွေရှိမယ် ။ အဲ့ဒါတွေကိုလည်း ဒီလမှာ ကျွတော်တို့ စွန့်လွှတ်လိုက်ကြတယ်။ ဒါတွေကို ကျွတော်တို့ ဘာလို့စွန့်လွှတ်ရတာလဲ? အလ္လာဟ်အရှင်မြတ်ရဲ့အမိန့်တော်သက်သက်ကြောင့်ပဲ မဟုတ်လား။ "အသင်တို့ နံနက်အရုဏ်ဦးကနေ ညနေ နေဝင်ချိန်ထိ သန့်ရှင်းတဲ့ ဟလာလ်အစားအစာတွေကိုတောင် မစားကြနဲ့"လို့ အလ္လာဟ်အရှင်မြတ်က အမိန့်တော် ထုတ်ပြန်ထားလို့ပဲ မဟုတ်လား။ "အသင်တို့ရဲ့လည်ချောင်းကနေ အစားအစာ တစ်စေ့ ၊ ရေတစ်စက်မှ မဝင်စေနဲ့" လို့ အလ္လာဟ်အရှင်က တားမြစ်ပိတ်ပင် ထားလို့ပဲ မဟုတ်လား။

ရမ်ဇန်လမြတ်မှာ ကျွတော်တို့ဟာ သန့်ရှင်းတဲ့ ဟလာလ်အရာတွေကိုတောင် စွန်လွှတ်ကြရတယ်။ ဆိုတော့က မသန့်ရှင်းတဲ့အရာတွေကို ပိုလို့တောင် စွန့်လွှတ်ရမယ်ဆိုတဲ့ သင်ခန်းစာတစ်ခု အသေအချာရသွားပြီ။ ဒါဆို မသန့်ရှင်တဲ့ ညစ်ညမ်းတဲ့ အရာတွေ ဆိုတာ ဘာတွေလဲ? အညစ်ညမ်းဆုံးအရာက ဂိုနဟ် ဆိုတဲ့ အလ္လာဟ်အရှင်မြတ်ရဲ့ အမိန့်တော်ကို ဖီဆန်ခြင်းပဲ။

လမြတ်ရမ်ဇန်မှာ အလ္လာဟ်အရှင်မြတ်အမိန့်တော်ကြောင့် သန့်ရှင်းတဲ့၊ ပိုင်တဲ့အရာတွေကိုတောင် ကျွတော်တို့ စွန့်လွှတ်လိုက်ကြရတယ်

ဆိုရင် တခြားလတွေမှာ အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင်ပဲ တားမြစ်ပိတ်ပင်ထားတဲ့ ညစ်ညမ်းတဲ့ ဂိုနဟ် ဒုစရိုက်တွေကို ဘယ်လိုလုပ် ကျူးလွန်လို့ ရပါ့မလဲ ။ အလ္လာဟ်အရှင်မြတ် မနှစ်သက်တဲ့အရာတွေ ဘယ်လိုလုပ်ခွင့်ရှိမှာလဲ။ ဘယ်လိုလုပ် မုသားပြောလို့ ရမှာလဲ။ ဘယ်လိုလုပ် လိမ်လည်သက်သေထွက်ဆိုလို့ ရမှာလဲ။ မုစ်လင်မ်တစ်ဦးတစ်ယောက်ကို ဘယ်လိုလုပ် စိတ်ဒုက္ခပေးလို့ ရမှာလဲ။ တခြားသူတွေရဲ့ ရပိုင်ခွင့်တွေကို ကျတော်တို့ ဘယ်လိုလုပ် မတရား ယူခွင့်ရှိမှာလဲ။ သူတပါးကို ဘယ်လိုလုပ် မဟုတ်မမှန် စွပ်စွဲလို့ ရပါ့မလဲ။ ဘယ်လိုလုပ် ခိုးခွင့်ရှိပါ့မလဲ။ ကျတော်တို့ သူတပါး စိတ်ထိခိုက်အောင် ဘယ်လို လုပ်ခွင့်ရှိမှာလဲ။ သူတပါးကို ဘယ်လိုလုပ် သတ်ခွင့်ရှိမှာလဲ စတဲ့.................. လူကြီးမင်းတို့ သိတဲ့အတိုင်းပဲ နောက်လည်း အများကြီးရှိသေးတယ် ။ ဒါတွေကို ဂရုတစိုက်နဲ့ ရှောင်ကြဉ်တဲ့ အကျင့်မွေးမြူလိုက်တာဟာ “သတ်က်ဝါ” ပဲ။

ရမ်ဇန်လမြတ်မှာ အလ္လာဟ်အရှင်မြတ်ရဲ့အမိန့်တော်ကြောင့် ကျတော်တို့ အစားသောက်တွေကို စွန့်လွှတ်ကြရတယ်။ ဒါဆိုရင် တခြားလတွေမှာလဲ အလ္လာဟ်အရှင်မြတ်ရဲ့ တားမြစ်မိန့်တွေရှိနေရဲ့သားနဲ့ ကျတော်တို့ ခိုးကြမှာလား? လိမ်လည်သက်သေထွက်ဆိုကြမှာလား? သူတစ်ပါးပိုင်တဲ့ မြေကို မတရား ယူကြမှာလား? သူတစ်ပါးရဲ့ ပိုင်ဆိုင်ခွင့်ကို မတရား ယူကြမှာလား? ကျတော်တို့ ညီကိုမောင်နှမတွေ၊ အဒေါ်တွေ ၊ဦးလေးတွေရဲ့ ရပိုင်ခွင့်အမွေတွေကို မတရား ယူကြမှာလား? နေကာဟ်ပွဲတွေကို ရှရီအသ်နဲ့ ဆန့်ကျင်ပြီး ဆင်နွှဲကြမှာလား? လာဘ်ပေး၊လာဘ်ယူတွေ လုပ်ကြမှာလား စတဲ့ စတဲ့......................................?

အလ္လာဟ်အရှင်မြတ်က ရမ်ဇန်လမြတ်ရဲ့ ရက်ပေါင်း ၂၉၊၃၀ လောက် အတွင်းမှာ သန့်ရှင်းတဲ့ စည်းစိမ်တွေကို စွန့်လွှတ်ခိုင်းပြီးတော့ နောက်နောင်မှာ ကျတော်တို့ ညစ်ညမ်းတဲ့ဂိုနဟ်တွေကနေ ရှောင်ကြဉ်နိုင်ဖို့ စခန်းသွင်းလေ့ကျင့်ပေးနေတာဖြစ်တယ်။ နောက်နောင် ဘယ်အလုပ်ကိုပဲ လုပ်လုပ် အဲ့ဒီအလုပ်ဟာ ရှရီအသ်နဲ့ ကိုက်ညီမှု ရှိလား၊ မရှိဘူးလား ဆိုတာ စဉ်းစားချင့်ချိန်ပြီး လုပ်တတ်အောင် စခန်းသွင်း လေ့ကျင့်ပေးနေတာဖြစ်တယ်။

**ညီနောင်အပေါင်းတို့ခင်ဗျား .....**

ရမ်ဇန်လမြတ်ရဲ့ တန်ဖိုးအကြီးမားဆုံး လက်ဆောင်မွန်၊ ရမ်ဇန်လမြတ်ရဲ့ သစ္စာစကားနဲ့အလင်းတရားကတော့ ကျတော်တို့ထဲမှာ စဉ်းစားချင့်ချိန်ပြီးလုပ်တဲ့အကျင့် မွေးမြူဖို့နဲ့ အလ္လာဟ်အရှင်မြတ် တားမြစ်ပိတ်ပင်ထားတဲ့အရာတွေကို ရှောင်ကြဉ်တဲ့အလေ့အကျင့်ကောင်းတွေ ရှင်သန်ပေါက်ဖွားလာဖို့ပဲ။ “ငါတို့ ရမ်ဇန်တလလုံး မစားဘဲမသောက်ဘဲနဲ့ ရိုဇာတွေ ပြည့်ပြည့်ဝဝထားခဲ့ပြီးပြီ၊ အခုရမ်ဇန်လ ကုန်သွားပြီ၊ ငါတို့ ဘဝအရေးကိစ္စတွေ စတော့မယ်၊ ရမ်ဇန်နဲ့ ဘာမှမဆိုင်တော့ဘူး၊ ငါတို့ နေချင်သလိုနေ၊ လုပ်ချင်သလို လုပ်လို့ရပြီ”လို့ ယူဆလို့မရဘူး။

အမှန်မှာ ကျတော်တို့ ရမ်ဇန်လမှာ အလ္လာဟ်အရှင်မြတ်ရဲ့အမိန့်တော်တွေကို ပြည့်ပြည့်ဝဝလိုက်နာဆောင်ရွက်ကြသလို ရမ်ဇန်ပြီးလည်း အလ္လာဟ်အရှင်မြတ်အမိန့်တော်တွေကို နေသားတကျ ထာဝရလိုက်နာတတ်တဲ့အကျင့်ဖြစ်သွားအောင် အရှင်မြတ်က ကျတော်တို့ကို ရမ်ဇန်လမြတ်မှာ စခန်းသွင်း လေ့ကျင့်ပေးလိုက်တာဖြစ်တယ်။ ဒါကြောင့် ကျတော်တို့က အလုပ်တိုင်းကို မလုပ်ခင် ချင့်ချိန်စဉ်းစားပြီး လုပ်ကြရမယ်။ စဉ်း

စားချင့်ချိန်တယ်ဆိုတာ အိမ်ကထွက်ဖို့ ခြေထောက်မြှောက်တာတောင် စဉ်းစားပြီး မြှောက်ပါလို့ ကျုတော် ပြောနေတာ မဟုတ်ပါဘူး။ ကျုတော်ဆို လိုတာက သာသနာ့အမိန့်ပညတ်ချက်တွေ၊ သူတစ်ပါးကို ပေးရမယ့် အခွင့် အရေးတွေနဲ့ ဟလာလ် ဟရာမ်နဲ့ စပ်လျဉ်းတဲ့ကိစ္စတွေမှာ စဉ်းစားချင့်ချိန် ဖို့ပါ။ အရာတစ်ခုဟာ အလ္လာဟ်အရှင်မြတ် မနှစ်သက်တဲ့အရာဖြစ်မယ်၊ ရှရီအသ်က တားမြစ်ထားတဲ့အရာဖြစ်မယ်ဆိုရင် ရမ်ဇန်လမှာ အစား အသောက်တွေ ရှောင်ကြဉ်သလို အဲ့ဒီအရာကိုလည်း ရှောင်ရမယ်။ စား ခြင်းသောက်ခြင်းဟာ အလ္လာဟ်အရှင်မြတ်ရဲ့မဟာစည်းစိမ်တစ်ခု ဖြစ်ပေ မယ့်လည်း ရမ်ဇန်လမြတ်မှာ ကျုတော်တို့အတွက် မပိုင်လို့ မစား မသောက်ဘဲ နေရတယ်။ ရမ်ဇန်လမြတ်က ကျုတော်တို့ကို တခြားလတွေ မှာလဲ အဲလို အတွေးအခေါ်မျိုး ထားစေချင်တာဖြစ်တယ်။

## ရမ်ဇန်လမြတ်က ပေးတဲ့ အဓိကသင်ခန်းစာ

"လူကြီးမင်း အပေါင်းတို့ ခင်ဗျား"..........

ကျုတော် ဒီနေ့ လူကြီးမင်းတို့ကို တကယ် အခရာကျတဲ့ စကား တစ်ခုပြောပြမယ်။ဒီစကားကိုတဘဝစာအတွက် ယူဆောင် သွားကြပါ။ အင်ရှာအလ္လာဟ် ဒီစကားလေးက လူကြီးမင်းတို့ တစ်ဘဝစာအတွက် လုံ လောက်သွားပါလိမ့်မယ်။

စွဟာဗဟ်သာဝကကြီးတွေက တမန်တော်မြတ်ﷺသခင်ကို မေး လေ့ရှိတယ် " အစ္စလာမ့်အမိန့်ပညတ်ချက်တွေက အများကြီး ဖြစ်သွားပြီ၊ ကျုတော်တို့ ဘဝမှာ ထာဝရ ဆင်မြန်းထားဖို့ ပြည့်စုံကုံလုံတဲ့ မိန့်ခွန်း တော်တစ်ရပ်ကို မိန့်ကြားတော်မူပါ၊ အဲ့ဒီ အမိန့်ကို ဘဝတည်ဆောက်





ရေးအခြေခံမှု အဖြစ် ကျတော်တို့ ပြုလုပ်ထားကြမယ်”။ အဲ့ဒီအခါ တမန်တော်မြတ်ﷺသခင်က မိန့်တော်မူတယ်................

قال رسول الله صلى الله عليه وسلم: ”لا يؤمن أحدكم حتى يكون هواه تبعا لما جئت به“.

“အသင်တို့အနက် တစ်ဦးတစ်ယောက်ရဲ့စိတ်အလိုဟာ ငါကိုယ်တော်ယူဆောင်လာတဲ့အရာတွေရဲ့ နောက်လိုက်မဖြစ်မချင်း ပြည့်ဝတဲ့မုအ်မင်န်မဖြစ်နိုင်ပေ။"

ဒီဟဒီးစ်တော်ကနေ ကိုယ်တော်မြတ်ﷺသခင်ထက် မြင့်မားတဲ့စာရိတ္တတော်တွေကို ပိုင်ဆိုင်ထားသူ မရှိဘူး ဆိုတာကို ကျတော်တို့ သိနိုင်တယ်။ကိုယ်တော်မြတ်ﷺသခင်က လွဲပြီး ဘယ်ကျေးကျွန်မှ ဒီလိုအာမခံချက်အပြည့်နဲ့ ဂုဏ်ယူပြောရဲတဲ့ သူလဲ မရှိဘူး။ ဒါ့အပြင် ကိုယ်တော်မြတ်ﷺသခင်က “ငါကိုယ်တော်ယူဆောင်လာတဲ့အရာတွေ” လို့ ဧကဝစ်ကိန်းကို အသုံးပြုပြီး မိမိတစ်ဦးတည်းဘက်ကို ဆက်နွယ်တင်ပြထားတယ်။ ဒီလိုတင်ပြခြင်းက စကားကို ပိုမိုလေးနက်စေတယ်။ ဒါကို စာပေအနုပညာ ခံစားခံရှိတဲ့သူတွေ ၊ ရှရီအသ်ရဲ့အနှစ်သာရကို သိရှိတဲ့သူတွေ နားလည်သဘောပေါက် နိုင်ပါတယ်။ တကယ်ဆို “အသင်တို့ရဲ့ စိတ်အလိုဟာ အလ္လာဟ်အရှင်မြတ်ရဲ့ အမိန့်ပညတ်တော်တွေနဲ့ ကုရ်အာန်၊ဟဒီးစ်ရဲ့ နောက်လိုက်မဖြစ်မချင်း ပြည့်ဝတဲ့ မုအ်မင်န်မဖြစ်နိုင်ပေ”လို့ ကိုယ်တော်မြတ်ﷺသခင် မိန့်လိုရင် မိန့်လို့ရတာပဲ။ ဒါပေမဲ့ ဒီဟဒီးစ်တော်မှာ အဲလိုမမိန့်ဘဲ မိမိတစ်ဦးတည်းဘက်ကို ဆက်နွယ်ပြီး မိန့်ခြွေထားတာဟာ

ကိုယ်တော်မြတ်ကို အလ္လာဟ်အရှင်မြတ် ချီးမြှင့်မြှောက်စားထားတဲ့ နဗီဘွဲ့ရဲ့ အဆင့်အတန်းကို ဖော်ကျူးပြနေတာဖြစ်တယ်။ နဗီဘွဲ့ရဲ့ အဆင့်အတန်း မြင့်မားမှုကို တင်ပြနေတာဖြစ်တယ်။ အဲလိုပဲ ဟဒီးစ်တော်ထဲမှာ နဗီဘွဲ့ရဲ့ ဂုဏ်ရှိန်ဂုဏ်ဝါ ကြီးမားမှုတွေလည်း ပါဝင်ကွန့်မြူးနေတယ်။ ဆိုလိုတာက အလ္လာဟ်အရှင်မြတ်ရဲ့ ဂုဏ်ရှိန်ဂုဏ်ဝါ ပြီးရင် နဗီဘွဲ့ရဲ့ ဂုဏ်ရှိန်ဂုဏ်ဝါနဲ့ တန်းတူညီမျှတဲ့ ဘယ်ဂုဏ်ရှိန် ဂုဏ်ဝါမှ မရှိဘူး။ မင်းရှိန်မင်းဝါတွေလည်း နဗီဘွဲ့ရဲ့ဂုဏ်ရှိန်ဂုဏ်ဝါ ရှေ့မှာ ဦးညွှတ်လိုက်တော့။ ငါကိုယ်တော်ယူဆောင်လာတဲ့အရာတွေရဲ့ ခြေတော်ရင်းမှာ ဝပ်ဆင်းပေတော့။ ငါကိုယ်တော် ယူဆောင်လာတဲ့အရာတွေနဲ့ ဆန့်ကျင်ဘက်ပြုတဲ့သူ၊ ပုံ့,တိုက်တဲ့သူဟာ ငါကိုယ်တော်ရဲ့ နဗီဖြစ်ခြင်း၊ ရစူလ်ဖြစ်ခြင်းကို ပုန်ကန်သူပဲ။

## ကျတော်တို့ဘာလုပ်သင့်လဲ

ကျတော်တို့ဟာ အလုပ်တိုင်းကို မလုပ်ခင် အဲ့ဒီအလုပ်ကို ကိုယ့်စိတ်အလိုကျ လုပ်နေတာလား? အဲ့ဒီအလုပ်က ကိုယ်တော်မြတ် ﷺ သခင်ရဲ့ လမ်းညွှန်ချက်တွေနဲ့ ဆန့်ကျင်နေလား? ကုရ်အာန်၊ ဟဒီးစ်နဲ့ သွေဖီနေလား ? ဆိုတာတွေကို အရင်ဆုံး စဉ်းစားဆင်ခြင်ရမယ်။ ဒီအချက်ကို လက်ကိုင်ပြုလိုက်ရင် တစ်ဘဝစာအတွက် လုံလောက်တယ်။ ဒါကို ကိုယ့်ဘဝရဲ့ ပေတံပဲ လို့မှတ်ယူလိုက်ပါ။ ကိုယ်ဘဝရဲ့ ကဏ္ဍတိုင်း၊ တစ်ဆစ်ချိုးတိုင်းကို အဲ့ဒီပေတံနဲ့ပဲ တိုင်းတာရမယ်။ ဘုရင်ပဲဖြစ်ဖြစ်၊ ကာရူးန်၊ ဟာမားန်လို လူပဲဖြစ်ဖြစ်၊ ဆရာပဲ ဖြစ်ဖြစ်၊ ကျောင်းသားပဲ ဖြစ်ဖြစ်၊ ရှေ့ဆောင်ဖြစ်ဖြစ်၊ နောက်လိုက်ဖြစ်ဖြစ် အားလုံးဟာ ကိုယ်တော်မြတ် ﷺ ယူဆောင်လာတဲ့အရာတွေနဲ့ပဲ ကိုယ့်ဘဝကို ဆင်မြန်းဖို့ အရေးကြီးတယ်။

လူကြီးမင်းတို့ ဒါကို ရမ်ဇန်လမြတ်က ပေးတဲ့သဝဏ်လွှာ၊ ရမ်ဇန်လမြတ်က ပေးတဲ့သင်ခန်းစာအဖြစ် နှလုံးသွင်းလိုက်ကြပါ။ ဘယ်လောက် ကြီးကျယ်တဲ့ အလုပ်ကြီးတွေ လုပ်လုပ်၊ ဘယ်လောက်ပဲ ခမ်းနားတဲ့ နေကာဟ်ပွဲတွေ လုပ်လုပ် ဒီအချက်ကိုပဲ ကျတော်တို့ ဦးထိပ်ပန်ဆင်ရမယ်။ မြေကိစ္စတွေမှာ နည်းနည်းပါးပါးတော့ သာသနာ့အမိန့်တော်တွေကို မျက်ကွယ်ပြုလို့ ရတာပဲဆိုပြီး စာရွက်စာတမ်း အတုတွေ၊ လိမ်လည် ကျိန်ဆိုမှုတွေနဲ့ သူများတွေရဲ့ ရပိုင်ခွင့်တွေကို ကျတော်တို့ မတရား အပိုင်စီးကြတယ်။ အဲ့လိုပဲ ဝန်ထမ်းဆိုတာတော့ လာဘ်ပေးလာဘ်ယူမှုနဲ့ မကင်းကြပါဘူးဆိုပြီး ပေါ့ပေါ့ပြောကြတယ်။ ဒီခေတ်ဟာ လာဘ်ပေး လာဘ်ယူမှုတွေ တွင်ကျယ်တဲ့ခေတ်ဆိုတော့ ပိုလို့တောင် ဆိုးသေးတယ်။

အချုပ်ပြောရရင် ကိုယ့်ဘဝရဲ့ ကဏ္ဍတစ်ခုခု၊အချိုးအကွေ့တစ်ခုခုဟာ အစ္စလာမ့်အမိန့်ပညတ်ချက်တစ်ခုခုနဲ့ ဆက်နွယ်နေပြီ၊ သူတစ်ပါးကို ပေးဆပ်ရမယ့် အခွင့်အရေးတွေနဲ့ ဆက်နွယ်နေပြီ ဆိုရင် ကျတော်တို့က ကိုယ်တော်မြတ်ﷺသခင်ရဲ့ လမ်းညွှန်ချက်တွေကိုပဲ ဦးထိပ်ပန်ဆင်ရမယ်။ အစ္စလာမ်သာသနာတော်ရဲ့ ရှုထောင့်ကနေ ဒီအချက်က ပိုင်လား၊ မပိုင်လားဆိုတာကို ဦးစားပေး ချင့်ချိန်စဉ်းစားရမယ်။ ကိုယ့်အလိုရမက်တွေ၊ကိုယ်ကျိုးစီးပွားတွေကို စွန့်လွှတ်ပစ်ရမယ်။

ကိုယ်တော်မြတ်ﷺထက်သာမြတ်တဲ့ မွတ်ဖ်သီ ဘယ်သူရှိမှာလဲ? ကိုယ်တော်မြတ်ﷺရဲ့ ရွှေစကားတွေထက် တခြားဘယ်သူ့စကားက ပိုမိုအလေးစီးမှာလဲ? ကိုယ်တော်မြတ်ﷺသခင် မိန့်တော်မူနေတယ် “အသင်တို့အနက် တစ်ဦးတစ်ယောက်ရဲ့စိတ်အလိုဟာ ငါကိုယ်တော်ယူဆောင်

လာတဲ့အရာတွေရဲ့ နောက်လိုက်မဖြစ်မချင်း ပြည့်ဝတဲ့ မုအ်မင်န်မဖြစ်နိုင်ပေ”။

ကြုံတုန်း ဆုံတုန်း နောက်ထပ် စကားတစ်ခွန်း နှစ်ခွန်းလောက် ကျတော် ထပ်ပြော ပါရစေဦး။ တစ်ခုကတော့ နဗီတွေကလွဲပြီး ခြောက် ပြစ်ကင်း သဲလဲစင်ဆိုတာ ဘယ်သူမှ မရှိဘူး။ လူတိုင်းအပြစ်နဲ့မကင်းကြဘူး။ ဆိုတော့ အရင်ဆုံး အဲ့ဒိအကြောင်းလေး ကျတော် နည်းနည်းပြောဦးမယ်။

## “ဂိုနဟ်ကဗီရဟ်” ပြစ်မှုကြီးတွေကနေ “သောက်ဗဟ်” အမှားဝန်ချ တောင်းပန်ဖို့လိုအပ်ပါတယ်

ပထမဆုံး ကျတော်တင်ပြချင်တဲ့ အချက်က ကျတော်တို့ ခင်ဗျားတို့ဟာ ပြစ်မှုအကြီးရော၊အသေးရော ကျူးလွန်မိကြတဲ့သူတွေချည်းပဲ။ ပြစ်မှုအကြီးတွေဟာ သောက်ဗဟ်မလုပ်ဘဲ ခွင့်လွှတ်ချွတ်ပယ်ခံရမှာ မဟုတ်ဘူးလို့ ပညာရှင်တွေ တစ်ညီတစ်ညွှတ်တည်းဆိုထားကြတယ်။ ဒါကို ကျတော်တို့ ဖဇာအွေလေ့ ရမ်ဇာန်ကျမ်းမှာလည်း အမြဲဖတ်ကြတယ်။

ဒါ့ကြောင့် အီးဒ်လမမြင်ခင်မှာ ကျတော်တို့ ကျူးလွန်ခဲ့တဲ့ ပြစ်မှုကြီးတွေကို စဉ်းစားပြီး အလ္လာဟ်အရှင်မြတ်ထံမှာ သောဝ်ဗဟ်အမှားဝန်ချတောင်းပန်ရမယ်။ ပြစ်မှုကြီးတွေကနေ အရှင်မြတ်ထံမှာ သောဝ်ဗဟ်ပြုတာဟာလည်း အရေးကြီးတဲ့ ဖရဇ်တာဝန်တစ်ရပ်ဖြစ်တယ်။

သောဝ်ဗဟ်ဆိုတာကိုလည်း “အိုးအလ္လာဟ် သောဝ်ဗဟ်၊ အိုးအလ္လာဟ် သောဝ်ဗဟ်” ဆိုပြီး ဇစ်က်ရ် စိတ်သလို ထိုင်ရွတ်ရတဲ့အရာလို့ တချို့က ထင်နေကြတယ်။ တကယ်တန်း သောဝ်ဗဟ်ဆိုတာ ကိုယ့်ဘဝ

မှာ ကျူးလွန်မိခဲ့တဲ့ ပြစ်မှုကြီးတွေကို စဉ်းစားသတိရပြီး ရင်ထဲအသဲထဲက စို့နစ်ပြီး အလ္လာဟ်အရှင်မြတ်ထံတော်ပါးမှာ အမှားဝန်ချတောင်းပန်တာကို ခေါ်တာ။ ရမ်ဇန်လမြတ်မှာ သောဝ်ဗဟ်လုပ်ရမှာကို လူတွေ သိပ်အလေး မထားကြဘူး။ အာရုံစိုက်တာနည်းကြတယ်။ အမလ်၊အေဗာဒသ်တွေ လုပ်တာ များကြတယ်။ သောဝ်ဗဟ်အကြောင်း ပြောတဲ့သူလည်း နည်း တယ်။ ဘာဖတ်ရင် ဘာအကျိုးကုသိုလ်တွေရမယ်ဆိုတဲ့အကြောင်းတွေ ပြောကြတာ များတယ်။ အဲ့ဒါတွေပဲ အထူးအလေးပေး ကျင့်ကြံကြတာ များတယ်။ ဒါ့ကြောင့် ကျတော်ကတော့ ဒီလမှာ သောဝ်ဗဟ်ပြုကြဖို့ အထူးတလည် တိုက်တွန်းချင်တယ်။

## လူ့သားအချင်းချင်းကြားရှိ ဝတ္တရားများကို ကျေပွန်ကြ

ဒုတိယအချက်အနေနဲ့ ကျတော်တင်ပြချင်တာက လူသားအချင်း ချင်းကြားမှာရှိတဲ့ တာဝန်ဝတ္တရားတွေကို ကျေပွန်ကြဖို့ ဖြစ်တယ်။ လူသား အချင်းချင်းကြားမှာရှိတဲ့ ဝတ္တရားတစ်ခုခု ပျက်ကွက်ထားရင် သောဝ်ဗဟ် လုပ်ရုံနဲ့ ခွင့်လွှတ်ချွတ်ပယ်ခံရမှာ မဟုတ်ဘူးလို့ ပညာရှင်တွေ တညီတ ညွတ်တည်း ဆိုထားတယ်။ ကာယကံရှင်ကို ကျေနပ်အောင် တောင်းပန် ပြီးမှ သောက်ဗဟ်အထမြောက်မယ်။ ကိုယ်ဘယ်သူ့ဝတ္တရားတွေ ချိုး ဖောက်ထားလည်း အဲ့ဒီသူကိုယ်တိုင်က ကျေကျေနပ်နပ်နဲ့ ခွင့်လွှတ်မှ အလ္လာဟ်အရှင်မြတ်ကလည်း ခွင့်လွှတ်တော်မူမယ်။

ဒါ့ကြောင့် သူများဆီက အကြွေးယူထားပြီး မပေးရသေးဘဲ ပေး ပြီးသားလို့ အကြောက်အကန်ငြင်းနေသူများ၊ သူများပစ္စည်းကို ငှားပြီး ပြန်မပေးရသေးသူများ၊သူတစ်ပါးမြေကို အပိုင်စီးထားသူများ စတဲ့ သူတ





ပါးကို ပေးရမယ့် တာဝန်ဝတ္တရားကြွေးတွေကို ကျတော်တို့ ပေးစပ်လိုက်ကြရမယ်။ ကျေပွန်လိုက်ကြရမယ်။ သူတို့ ကျေနပ်တဲ့ထိ မရမက တောင်းပန်ကြရမယ်။ တောင်းပန်တဲ့အခါ လူကြီးမင်း ဘယ်လောက်ပဲ မျက်နှာငယ်ရ ငယ်ရ၊ဘယ်လောက်ပဲ သိက္ခာကျကျ မရ ရအောင် တောင်းပန်လိုက်ပါ။ ဒါတွေကို အီးဒ်မတိုင်ခင် အပြီးလုပ်လိုက်တာ အကောင်းဆုံးပါပဲ။

ကျတော်တို့ဟာ ဘုရင်လည်း မဟုတ်ဘူး၊သမ္မတလည်း မဟုတ်ဘူး၊ဝန်ကြီးချုပ်လည်း မဟုတ်ဘူး၊ ညွှန်ချုပ်လည်း မဟုတ်ဘူး။ ကျတော်တို့ ပေးဆပ်ရမယ့် တာဝန်ဝတ္တရားတွေက အလွန်ဆုံး နှစ်ခုသုံးခုပဲ။ ခုန ပုဂ္ဂိုလ်တွေ ပေးဆပ်ရမယ့် တာဝန်ဝတ္တရားတွေဆို ဘယ်လောက်တောင် များလိုက်မလဲ စဉ်းစားသာ ကြည့်တော့။ ထားပါ ဒါကတော့ သူတို့ ကိစ္စပါ။ ကျတော်တို့က ကျတော်တို့ တောင်းပန်စရာရှိတာတွေ တောင်းပန်လိုက်ကြရအောင်။ ပေးစရာတွေ ပြန်ပေးလိုက်ကြရအောင်။

ကျတော်ပြောနေတာတွေက အစ္စလာမ့်အခြေခံ အမိန့်ပညတ်ချက်တွေပါ။ ကုန်အာန်၊ဟဒီးစ်က အတိအလင်း လမ်းညွှန်ထားတဲ့ လမ်းညွှန်ချက်တွေပါ။ ဒီနေ့ ကျတော်တို့ တာဝန်ကျေအောင်မလုပ်ရင် မနက်ဖန် ကေယာမသ်နေ့မှာ ပေးဆပ်ရလိမ့်မယ်။ ကေယာမသ်နေ့ကျ ပစ္စည်း၊ ဥစ္စာ၊ပိုက်ဆံ စတဲ့ ဘာတစ်ခုမှ အသုံးဝင်မှာ မဟုတ်တော့ဘူး။ ကိုယ်ပျက်ကွက်ခဲ့တဲ့ တာဝန်ဝတ္တရားကြွေးကို ကိုယ့်ရဲ့ကောင်းမှုတွေပေးပြီး ပြန်ဆပ်ရ လိမ့်မယ်။

ဒါ့ကြောင့် လူကြီးမင်းအပေါင်းတို့ခင်ဗျား အခု အချိန်ရှိတုန်း တောင်းပန်စရာရှိတာတွေ မြန်မြန်တောင်းပန်ပြီး ပေးစပ်စရာရှိတာတွေ မြန်မြန်ပေးလိုက်ကြပါ။

## လက်ရှိအချိန်မှာ အကြီးဆုံးပြဿနာက ကလေးတွေရဲ့သာသနာ့ပညာရေးပဲ

တတိယအချက်အနေနဲ့ ကျတော်တင်ပြချင်တာကတော့ လူကြီးမင်းတို့ ကိုယ့်ကလေးတွေရဲ့ သာသနာ့ပညာရေးအတွက်သောကထားကြဖို့ပါ။ အနည်းဆုံး သူတို့ရဲ့ ယုံကြည်မှုအယူဝါဒတွေကို မှန်ကန်ဖြောင့်မတ်အောင်တော့ ပြုလုပ်ပေးကြပါ။လောက ကမ္ဘာကို စိုးမိုးခြယ်လှယ်နိုင်တော်မူတဲ့ အရှင်ဟာ အလ္လာဟ်အရှင်မြတ်ကလွဲပြီး တခြားဘယ်သူမှ မရှိကြောင်း သူတို့ရဲ့ နှလုံးသဲပွတ်မှာ အနည်ထိုင်သွားအောင် ပြုလုပ်ပေးကြပါ။ ဒီခေတ်ဟာ သတင်းမီဒီယာ၊လူမှုကွန်ယက်၊ရုပ်ရှင်ဗီဒီယို၊ စာပေဟောပြောပွဲ စတဲ့ခေါင်းစဉ်အမျိုးမျိုးနည်းအမျိုးမျိုးနဲ့ အစ္စလာမ့်ယုံကြည်မှုအယူဝါဒတွေကို ဖျက်စီးနေတဲ့ ခေတ်ဖြစ်တယ်။ ဒါ့ကြောင့် ကျတော်တို့ဟာ ကိုယ့်အနာဂတ် မျိုးဆက်သစ်လူငယ်တွေရဲ့ မှန်ကန်တဲ့ယုံကြည်မှုအယူဝါဒတွေကို ထိန်းသိမ်းကာကွယ်ဖို့ အပတ်တကုတ် ကြိုးပမ်းအားထုတ်ရန် အလွန်အရေးကြီးတယ်။

ကျတော်ကတော့ ကြုံရင်ကြုံသလို အမြဲ ဒီကစ္စကို ထပ်ခါ ထပ်ခါ ပြောလေ့ရှိတယ်။ ကောင်းတဲ့စကားတွေကတော့(၁၀)ကြိမ်မက အကြိမ်(၅၀)ပြောလည်းရှက်စရာ မဟုတ်ဘူး။လခ်နောင်မြို့ရဲ့ အခမ်းနားကြီးတစ်ခုမှာ ဟောပြောခွင့်ရတုန်းက ကျတော် စကားတစ်ခုပြောခဲ့တယ်။အဲ့ဒါက

တမန်တော် ယအ်ကူးဗ်သ ﷺခင်ရဲ့အကြောင်းဖြစ်တယ်။ ယအ်ကူးဗ် ﷺသခင်ဟာ နဗီတစ်ပါးဖြစ်တယ်။ ယအ်ကူးဗ် ﷺသခင်ရဲ့ဖခင် အစ်ဟားက် ﷺသခင်ကလည်း နဗီပဲ။ အစ်ဟားက် ﷺသခင်ရဲ့ ဖခင်အစ်ဗ်ရာဟီးမ် ﷺသခင်ကလည်း နဗီတစ်ပါးဖြစ်တယ်။ အဲလိုပဲ ယအ်ကူးဗ် ﷺသခင်ရဲ့သား ယူစွတ်ဖ် ﷺသခင်က လည်း နဗီတစ်ပါးဖြစ်တယ်။

တမန်တော်ယအ်ကူးဗ် ﷺသခင်ရဲ့ အထက်ဘိုးစဉ်ဘောင်ဆက်ကလည်း နဗီတွေ၊ သားစဉ်မြေးဆက်ကလည်း နဗီတွေပဲ။ နဗီမျိုး နဗီနွယ်တွေ ဖြစ်တယ်။ အဲလိုကြီးကျယ်တဲ့ တမန်တော်ကြီး ကွယ်လွန်ခါနီးအချိန် နဗီနွယ်ဝင် သားမြေးမြစ်တွေအတွက် သောကဖြစ်ခဲ့တဲ့ စကားတွေကို ဒီနေရာမှာ ကျတော် အဓိကထား မီးမောင်းထိုးပြချင်နေတာပါ။ တော်တော်များများက သေဆုံးခါနီးအချိန်ရောက်ရင် ဘယ်နေရာမှာ ပိုက်ဆံဘယ်လောက် ဘယ်ရွှေ့ထားထားတယ်၊လယ်မြေပိုင်ဆိုင်မှုတွေ ဘယ်လောက်ရှိတယ် စတဲ့ စကားတွေပဲ သတိရကြတယ်။ ဒါပေမဲ့ နဗီမျိုး နဗီနွယ်ဝင် တစ်ပါးဖြစ်တဲ့ တမန်တော်ယအ်ကူးဗ် ﷺသခင်ကြီးက မိမိရဲ့သားတော်တွေကို မိန့်ခဲ့တဲ့ မိန့်ခွန်းတွေကို ရှုစားကြည့်ကြပါ။ အဲ့ဒီမိန့်ခွန်းတွေကို အလ္လာဟ်အရှင်မြတ်က ကျမ်းတော်မြတ်ကုရ်အာန်ထဲမှာ အမှတ်သညာ တစ်ခုအနေနဲ့ ကဗျည်းထိုးထားတယ်။

﴿ أَمْ كُنتُمْ شُهَدَآءَ إِذْ حَضَرَ يَعْقُوبَ ٱلْمَوْتُ إِذْ قَالَ لِبَنِيهِ مَا تَعْبُدُونَ مِنۢ بَعْدِى قَالُوا۟ نَعْبُدُ إِلَـٰهَكَ وَإِلَـٰهَ ءَابَآئِكَ إِبْرَٰهِـۧمَ وَإِسْمَـٰعِيلَ وَإِسْحَـٰقَ إِلَـٰهًا وَٰحِدًا وَنَحْنُ لَهُۥ مُسْلِمُونَ ﴿١٣٣﴾ ﴾ (البقرة: ١٣٣).

တမန်တော်ယအ်ကူးဗ်ﷺသခင်ကြီး နောက်ဆုံးအချိန်ရောက် လာတဲ့ အခါ သူ့ရဲ့ သားမြေးမြစ်တွေ အားလုံးကို ခေါ်ယူစုစည်းစေလိုက် တယ်။ ဒီလိုအချိန်မျိုးမှာ အားလုံးက တစ်စုတစ်စည်းတည်း ရှိစမြဲပဲ။ အလ္လာဟ့် အချစ်တော် နဗီတမန်တော်ကြီးဆိုတာ အမြဲ အလ္လာဟ် အရှင်မြတ်ကို ဇစ်က်ရ်သတိရတာသမှုထဲမှာပဲ မွေ့လျော်နေလေ့ရှိတယ်။ သားမြေးမြစ်တွေနဲ့ မလိုအပ်ဘဲ စကားစမြည်ပြောဖို့ အားလပ်ချိန်ရယ်လို့ ရှိတာ မဟုတ်ဘူး။ ဒါပေမဲ့ သခင်ကြီးက အခု မိမိပြောမယ့် စကားက ဇစ်က်ရ် ဘာဝနာစီးဖြန်းမှုထက် သာပို အရေးကြီးတဲ့ ကိစ္စဖြစ်တယ်လို့ မှတ်ယူပြီးတော့ မိန့်တော်မူတယ်။ အလိုသဘောက “ အိုးငါ့ရဲ့ သားမြေးမြစ်တို့ ငါမရှိတဲ့နောက်မှာ အသင်တို့ ဘယ်သူ့ကို ကိုးကွယ်ကြမှာလဲ ဆိုတာကိုတော့ ပြောပြကြပါ။ အဲ့ဒီအခါ သားမြေးမြစ်တို့က “အိုး ဖခမည်းတော်ကြီး အဲ့ဒီကိစ္စနဲ့ ပတ်သက်လို့ မေးစရာလိုသေးပါသလား? ကျတော်တို့က ဘယ်လို ဥယျာဉ်ကနေ ဖူးပွင့်လာတဲ့ အသီးအပွင့်တွေ ၊ ဘယ်လို ပုဂ္ဂိုလ်တွေရဲ့ အနွယ်ဝင်တွေ ဖြစ်တယ်ဆိုတာကို ဖခမည်းတော်ကြီး သိပြီး သားပဲလေ။ ခမည်းတော်ကြီးက ကျတော်တို့နဲ့ ပတ်သက်ပြီး သံသယ ဖြစ်နေလို့လား ? သံသယ စိုးစေ့မှ မဖြစ်ပါ့နဲ့ ။ ဒီမှာ တမန် တော်ကြီးက “အသင်တို့ ငါမရှိတဲ့နောက် ဘာကို ကိုးကွယ်ကြမှာလဲ? ဘယ်လမ်းစဉ်ကို လျှောက်လှမ်းကြမှာလဲ” ဆိုတဲ့ မေးခွန်းတွေကို သေသေချာချာ စေ့စေ့ ပေါက်ပေါက် မေးမြန်းခဲ့တယ်။ တနည်းပြောရရင် သခင်ကြီး က အဲ့ဒီမေးခွန်းတွေကို သေချာမမေးရသေးရင် အာခေရသ်ခရီးနှင်ဖို့ စိတ်မဖြောင့်ဘူး ဖြစ်နေတယ်။ အရှင်မြတ်ထံ စိတ်ချလက်ချနဲ့ ပြန်မရဘူး ဖြစ်နေတယ်။

ကျတော်တို့ ဘယ်လောက်ပဲ နမားဇ်မြဲတဲ့ပုဂ္ဂိုလ်ကြီး ဖြစ်ဖြစ်၊ ဘယ်လောက်ပဲ ရိုဇာစောင့်ထိန်းတဲ့ ပုဂ္ဂိုလ်ကြီးဖြစ်ဖြစ်၊ ဘယ်လောက်ပဲ ကြီးကျယ်တဲ့ အာလင်မ်ပညာရှင်ကြီးဖြစ်ဖြစ်၊ ဝလီသူတော်စင်ကြီး ဖြစ်ဖြစ် ကျတော်တို့ရဲ့ အနာဂတ်မျိုးဆက်သစ်တွေကို စိတ်ချလက်ချနဲ့ ထားခဲ့လို့ရတဲ့အဆင့်ထိ ပြုစုပျိုးထောင်ပေးဖို့ အရေးကြီးတယ်။ ဝလီဆိုတာ နဗီထက် သာမြတ်ပါသလား? ။တမန်တော် ယအ်ကူးဗ် عليه السلام သခင်ကြီး ဟာ ဝလီတွေရဲ့ ထွဋ်ခေါင် နဗီတစ်ပါးဖြစ်တယ်။ အလ္လာဟ် အရှင်မြတ် ကိုယ်တော်တိုင် ရွေးချယ်တင်မြှောက်ထားတဲ့ နဗီတမန်တော်ကြီး တစ်ပါး ဖြစ်တယ်။ အဲ့လိုနဗီတမန်တော်ကြီးတောင် မိမိရဲ့အနာဂတ် မျိုးဆက်သစ်တွေအတွက် ရတက်မအေးဖြစ်ပြီး စိတ်ချလက်ချဖြစ်တဲ့အထိ ကြိုးပမ်းဆောင်ရွက်သွားတယ်ဆိုရင် ကျတော်တို့ဆို ပိုပြီး သောကမထားသင့်ပေဘူးလား?

တကယ်ဆို တမန်တော်ယအ်ကူးဗ် عليه السلام သခင်ကြီးရဲ့ ခေတ်ဟာ ကျတော်တို့ လက်ရှိကျင်လည်နေရတဲ့ ခေတ်လို ခေတ်ဆိုးကြီး မဟုတ်ဘူး။ အဲ့ဒီခေတ်မှာရှိနေတဲ့ မကောင်းမှုတွေ၊အကျင့်ပျက်ခြစားမှုတွေက ဒီခေတ်မှာလို လွယ်လွယ်ကူကူ မပြန့်နှံ့နိုင်ဘူး။ ဒီဘက်ခေတ်မှာက အစားအသောက်တွေမှာတောင် ဓာတုပစ္စည်းပေါင်းစုံ ရောနှောပစ်လိုက်ကြပြီ။ အဲ့ဒီ ဓာတုပစ္စည်းတွေက ရေထဲရော၊လေထဲပါ စိမ့်ဝင်ကုန်ပြီ။ ကျောင်းပညာရေးတွေ၊ဟောပြောပွဲတွေ ကြည့်လိုက်ရင်လည်း အစ္စလာမ့်ယုံကြည်မှုအယူဝါဒတွေကို ပျက်ပြားစေတဲ့ အဆိပ်အတောက်တွေ ရောနှောပါဝင်လာပြီ။ ဆိုလိုတာက အစ္စလာမ့်မျိုးဆက်သစ်လူငယ်တွေရဲ့ ယုံကြည်မှုအယူဝါဒနဲ့ ကောင်းမွန်မြင့်မြတ်တဲ့ အကျင့်သီလတွေကို ဖျက်ဆီးဖို့ နည်းမျိုးစုံနဲ့

ရည်ရွယ်ချက်ရှိရှိ အင်တိုက်အားတိုက်ကြိုးပမ်းနေကြတဲ့ ခေတ်ဆိုးကြီးမှာ ကျတော်တို့ ကျင်လည်နေကြရတယ်။

ဒါ့ကြောင့် အချုပ်အနေနဲ့ ကျတော်ပြောချင်တာက ကိုယ့်ရဲ့ အနာဂတ်မျိုးဆက်သစ်တွေကို ကိုယ်တွေသက်ရှိထင်ရှားရှိနေတုန်း စိတ်ချလက်ချ ဖြစ်တဲ့အထိ ပြုစုပျိုးထောင်ထားကြပါ။ သူတို့ကို သာသနာ့အသိပညာတွေ သင်ပေးကြပါ။ အစ္စလာမ့်အခြေခံပညာသင်ကျောင်းတွေကို ပို့ပေးကြပါ။ အစိုးရကျောင်းကြောင့် အချိန်မရဘူးဆိုရင်လည်း အိမ်မှာ ဆရာသမားတွေ ပင့်ခေါ်ပြီး သင်ကြားပေးပါ။ အစ္စလာမ့်ယုံကြည်မှုအယူဝါဒတွေနဲ့ အခြေခံအသိပညာ ဗဟုသုတတွေ ကိုယ့်ကလေးတွေရဲ့ နှလုံးအိမ်မှာ အနည်ထိုင်သွားတဲ့ထိ သင်ကြားပေးဖို့ ဆရာသမားတွေကို မေတ္တာရပ်ခံပန်ကြားကြပါ။ ကလေးတွေကို အခြေခံအသိပညာ ဗဟုသုတတွေ တိုးပွားစေမယ့် စာအုပ်လေးတွေ ဖတ်ခိုင်းပါ။ သူတို့ကို သာသနာ့နဲ့ပတ်သက်တဲ့ အကြောင်းလေးတွေ ပြောပြဖို့ အိမ်က အမျိုးသမီးတွေကိုလည်း စေ့ဆော်တိုက်တွန်းပါ။

နေရာတကာမှာအစ္စလာမ့်အခြေခံပညာသင်ကျောင်းတွေ၊အထက်တန်းကျောင်းတွေဖွင့်ပေးကြရမယ်။ သင်နေတဲ့ ကျောင်းသားတွေကိုလည်းကူညီပံ့ပိုးကြရမယ်။ အိမ်တွေမှာလည်းသာသနာ့အသိပညာဗဟုသုတတွေ ရှာမှီးနိုင်မယ့် အစီစဉ်တွေ စနစ်တကျ ဖန်တီးပေး ကြရမယ်။

ဒီလိုပြုစုပျိုးထောင်ပေးတဲ့ အစီစဉ်တွေကိုစနစ်တကျ၊ ဂရုတစိုက်နဲ့ကျတော်တို့မလုပ်ကြဘူးဆိုရင် မြန်မာမုစ်လင်မ် မျိုးဆက်သစ်လူငယ်တွေအတော်များများဟာ အစ္စလာမ်သာသနာကို သရော်ပျက် ချော်ပြုမယ့်သူတွေ၊သာသနာ့ဂုဏ်ရောင် ညှိုးနွမ်းအောင်လုပ်မယ့်သူတွေ ဖြစ်ကုန်ကြ

မှာကိုအင်မတန်စိုးရိမ်ရပါတယ်။အလ္လာဟ်အရှင်မြတ် ထိန်း သိမ်းတော်မူပါစေ။အာမီးန်။

## ဒီနိုင်ငံမှာ လူကြီးမင်းတို့ ဘယ်လိုနေကြမလဲ

နောက်ဆုံး ကျတော်တင်ပြချင်တဲ့အချက်ကတော့ လူကြီးမင်းတို့ ကိုယ့်ကိုယ်ကို ကောင်းမွန်မြင့်မြတ်တဲ့ စာရိတ္တမွန်တွေ၊ အမူအကျင့်ကောင်းတွေနဲ့ ဆင်ရင်ခြယ်သကြပါ။ အဲ့ဒိစာရိတ္တမွန်တွေ၊ အမူအကျင့်ကောင်းတွေဟာ အိမ်နီးချင်းအယူမတူသူတွေရဲ့ ဥဒဟာနှလုံးကို သိမ်းကျုံးယူနိုင်စွမ်းရှိတယ်။ သူတို့ထဲမှာ အစ္စလာမ်သာသနာကို လေ့လာချင်ဇောတွေ ပေါက်ဖွားပေးနိုင်တယ်။လူကြီးမင်းတို့က အဲ့လိုစာရိတ္တမွန်တွေကို ထုတ်ဖော်ပြသရင် သူတို့စဉ်းစားလာကြလိမ့်မယ် “ဒီပုဂ္ဂိုလ်တွေက ဘယ်လို ပုဂ္ဂိုလ်တွေလဲ?လမ်းမှာ လူတွေကို ဒုက္ခဖြစ်စေတဲ့ ဆူးညှောင့်ခလုတ်တွေ ဖယ်ရှားနေတယ်။ ဒီလမ်းကနေ လူအယောက်(၅၀၊၁၀၀) လောက် ဖြတ်နေကြပေမယ့် ဒါတွေလုပ်ဖို့ ဘယ်သူမှ စဉ်းတောင်မစဉ်းစားကြဘူး”။ ဒီလိုနဲ့ လူကြီးမင်းတို့ကို တစ်ယောက်ယောက်က လာမေးမယ်ဆိုရင်လည်း လူကြီးမင်းတို့က ရှင်းပြမယ် “ဒါဟာ ကျတော်တို့အမိမြေဖြစ်တယ်။ ဒီနိုင်ငံကို စည်ပင်သာယာဝပြောအောင်လုပ်ဖို့ ကျတော်တို့မှာ တာဝန်ရှိတယ်”။ ဒါမှမဟုတ် လမ်းမှာ ရေပိုက်ပွင့်နေလို့ ပိတ်လိုက်မယ်။ မီးတွေပွင့်နေရင်ပိတ်မယ် စသဖြင့်ပေါ့။ ကျတော်တို့ရဲ့ မျက်လွှာတွေကို အောက်ချထားမယ်၊ တစိမ်းအမျိုးသမီးတွေကို မကြည့်ဘူး၊ ရိုင်းရိုင်းပြပြ ဆဲရေးတိုင်းထွာတာတွေကို ရှောင်မယ် စတဲ့ ကောင်းမွန်မြင့်မြတ်တဲ့ စာရိတ္တမွန်တွေကို လက်ကိုင်ပြုပြီး ဘဝကို မွေးမြူမယ်ဆိုရင် လူကြီးမင်းတို့နဲ့အတူနေတဲ့ အရပ်သူ အရပ်သား ဘာသာခြားတွေက ဆိုကြမယ် “ ငါတို့ ရပ်ကွက်မှာ မုစ်လင်မ်ညီနောင်တွေ နေကြတာ ငါတို့ စိတ်ချမ်းသာတယ်။ငါတို့ သမီး၊အမ၊နှမတွေရဲ့ အရှက်သိက္ခာလည်း

လုံခြုံမှုရှိတယ်။အရပ်ထဲမှာ ခိုးဆိုးသောင်းကျန်းမှု အန္တရာယ်တွေကိုလည်း မစိုးရိမ်ရဘူး စတဲ့......” ။ အဲလိုပဲ တစ်ယောက်ယောက်က အဇာန်ဆိုတာ ကို ပိတ်ပင်တားမြစ်ဖို့ ပြောလာမယ်ဆိုရင်လည်း အဲ့ဒီအရပ်သူ အရပ်သား ဘာသာခြားတွေကပဲ ကာကွယ်ပြောဆိုကြလိမ့်မယ် “ဟာ! အဲ့ဒီ အဇာန်ကို မတားမြစ်ကြပါနဲ့။ အဲ့ဒီအဇာန်သံကြောင့် ဒို့အရပ်က မင်္ဂလာရှိနေတာ။ အားလုံး ကျန်းမာချမ်းသာပြီး အန္တရာယ်ကင်း ဘေးရှင်းနေကြတာ စသ ဖြင့်.....”

လူကြီးမင်းတို့သာ ကိုယ့်သာသနာရဲ့လမ်းညွှန်ချက်တွေအတိုင်း တိတိကျကျလိုက်နာကျင့်သုံးမယ်၊ ကောင်းမွန်မြင့်မြတ်တဲ့ အမူအကျင့် တွေနဲ့ ကိုယ့်ဘဝကိုဆင်မြန်းထားမယ်ဆိုရင် အဲ့ဒီအယူမတူသူတွေရဲ့ နှလုံး အိမ်ထဲမှာ အစ္စလာမ့်ချစ်စိတ်တွေ ကိန်းအောင်းလာလိမ့်မယ်။ အစ္စလာမ့် အနှစ်သာရနဲ့အလှတရားတွေကို သူတို့ သိလာလိမ့်မယ်။ တစ်ယောက် ယောက်က လူကြီးမင်းကို ဆန့်ကျင်တဲ့စကားတစ်ခုခုပြောရင်တောင် သူ တို့က လူကြီးမင်းဘက်ကနေ မားမားမတ်မတ် ရပ်တည်ချေပကြလိမ့်မယ် “မဟုတ်ဘူး၊မဟုတ်ဘူး ဒီလိုပုဂ္ဂိုလ်တွေ ငါတို့နိုင်ငံမှာ ရှိနေဖို့လိုတယ်၊ ဒီလို ပုဂ္ဂိုလ်တွေကြောင့် ငါတို့နိုင်ငံမှာ မင်္ဂလာအပေါင်းခညောင်းပြီး အန္တရာယ်ကင်း ဘေးရှင်းနေတာ”။ ကိုယ့်ကိုယ်ကို အဲ့လို စာရိတ္တမွန်နဲ့ ဆင် မြန်းထားဖို့ ဒီခေတ်မှာ ပိုတောင် အရေးကြီးသေးတယ်။ ဒါမှ အယူကွဲပြား သူတွေကြားမှာ လူကြီးမင်းက ထူးခြားဂုဏ်အင်ပိုင်ဆိုင်သူတစ်ဦးဖြစ် လာမယ်။ لَعَلَّكُمْ تَتَّقُونَ

အားလုံးကို အချုပ်ပြန်ပြောရရင် ကျတော် ဒီနေ့အချက် ၅ ချက် ကို ကျင့်မှုဖို့ စေ့ဆော်တိုက်တွန်းခဲ့တယ်။ ပထမအချက်က အလုပ်တိုင်းကို မလုပ်ခင် အဲ့ဒီအလုပ်ဟာ လုပ်ပိုင်ခွင့်ရှိတဲ့အလုပ်လား မရှိတဲ့ အလုပ်လား ၊ ဟလာလ်လား ဟရာမ်လား ၊ အလ္လာဟ်အရှင်မြတ် နှစ်သက်တဲ့ အလုပ်

လား မနှစ်သက်တဲ့ အလုပ်လား ဆိုတာ စဉ်းစားချင့်ချိန်ပြီး လုပ်တတ်တဲ့ အကျင့်မျိုး ဗီဇမျိုး ဖြစ်သွားဖို့။ ရမ်ဇန်လမြတ်က ဗီဇလုပ်ပေးရုံပဲ မဟုတ်ဘူး။ ဗီဇတွေကိုလည်း ပြောင်းပေးတယ်။ အဲ့လိုပဲ အကျင့်ပဲ လုပ်ပေးတာ မဟုတ်ဘူး။ အဲ့ဒီအကျင့်ကို လူ့ပင်ကိုယ် ဗီဇတစ်ခုအသွင် ဖြစ်သွားအောင်ပါ လုပ်ပေးတယ်။

ဒုတိယအချက်က အာခေရသ် ခရီးမနှင်ခင် ကျူးလွန်မိခဲ့တဲ့ ပြစ်မှုကြီးတွေကနေ အလ္လာဟ်အရှင်မြတ်ထံမှာ သောဝ်ဗဟ် အမှားဝန်ချတောင်းပန်ဖို့ တင်ပြခဲ့တယ်။ တတိယအချက်က ကိုယ့်အပေါ်မှာတင်ရှိနေတဲ့ တခြားသူတွေကို ပေးစပ်ရမယ့် ဝတ္တရားတွေကို ကျေပွန်ဖို့နဲ့ ကိုယ်ဘယ်သူတွေရဲ့ ဝတ္တရားတွေကို ကျေပွန်ဖို့ ပျက်ကွက်ခဲ့လည်း အဲ့ဒီလူတွေကို တောင်းပန်ဖို့ အရေးကြီးကြောင်း တင်ပြဆွေးနွေးခဲ့တယ်။ စတုတ္ထအချက်ကကိုယ့်ကလေးတွေရဲ့ပညာရေးနဲ့ အစ္စလာမ်နည်းကျပြုစုပျိုးထောင်ရေးအတွက် သောကထားပြီး စနစ်တကျ စီမံဆောင်ရွက်ဖို့ တင်ပြခဲ့တယ်။ပဥ္စမအချက်အနေနဲ့ ဘာသာခြားတွေက "ခင်ဗျားတို့ သာသနာက ဘယ်လို သာသနာလဲဆိုတာ ကျတော်တို့ သိချင်ပါတယ်"လို့ ပြောလာကြတဲ့ထိ၊ သူတို့တွေ အစ္စလာမ်သာသနာကို ချစ်ပြီး လေ့လာချင်စိတ်တွေ တဖွားဖွား ပေါ်ပေါက်လာတဲ့ထိ လူကြီးမင်းတို့က ကိုယ့်ကိုယ်ကို ကောင်းမွန်မြင့်မြတ်တဲ့ စိတ်ထားတွေ၊စာရိတ္တမွန်တွေနဲ့ ဆင်ရင်ခြယ်သထားဖို့ လိုအပ်ကြောင်း တင်ပြခဲ့တယ်။

(ကျွန်ုပ်တို့လက်တွေ့ဘဝကိုဆရာသခင်ကြီးတင်ပြခဲ့သမျှ ရတနာများဖြင့် ဆင်ယဉ်ချယ်သနိုင်စွမ်းအရှင်မြတ်ချီးမြှင့်ပေးသနားတော်မူပါစေ။ ဟု ဆုမွန်ဒိုအာကောင်း တောင်းခံရင်းဖြင့် .......)

**စိုင်ယစ်ဒ် မုဟမ္မဒ် ဟစ်ရှား**
**(ဟုစိုင်နီ၊အလ်ကောင်ဆရီ)**